**SOUTHEASTASIANET TECHNOLOGIES MYANMAR LIMITED**

**RECOUPMENT PERIOD**

**Annexuare(10)**

**(USD-000)**

| Sr No | | Particular | | Year - 1 | Years - 2 | Years - 3 | Years - 4 | Years - 5 | Years - 6 | Years - 7 | Years - 8 | Years - 9 | Years - 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | 2 | | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 | 11 | 12 |
| 1 | | **Net Profit After Tax** | | | | | | | | | | | |
| | 1 | Profit After Tax | | (2,718.817) | (1,142.298) | (21.628) | 1,635.012 | 2,166.591 | 2,148.808 | 2,301.329 | 3,301.980 | 4,103.736 | 4,868.570 |
| | 2 | Depreciation | | 550.772 | 550.772 | 550.772 | 550.772 | 550.772 | 550.772 | 550.772 | 550.772 | 550.772 | 550.772 |
| | | | | (2,168.045) | (591.526) | 529.144 | 2,185.784 | 2,717.363 | 2,699.581 | 2,852.101 | 3,852.753 | 4,654.509 | 5,419.342 |
| 2 | | **INVESTMENT** | | | | | | | | | | | |
| | 1 | Equity Capital in Cash | 3,500.000 | | | | | | | | | | |
| | 2 | Initial Equipment | 2,557.724 | | | | | | | | | | |
| | 3 | Annual Equipment | 2,322.000 | | | | | | | | | | |
| | 5 | Office Furniture & Equi | 200.000 | | | | | | | | | | |
| | 6 | Rental Fee | 1,020.000 | | | | | | | | | | |
| | 7 | Licence Fee | 53.000 | | | | | | | | | | |
| | | | 9,652.724 | | | | | | | | | | |
| 3 | | **Total Net Profit** | (9,652.724) | (2,168.045) | (591.526) | 529.144 | 2,185.784 | 2,717.363 | 2,699.581 | 2,852.101 | 3,852.753 | 4,654.509 | 5,419.342 |
| 4 | | **Opening Balance** | | (9,652.724) | (11,820.769) | (12,412.295) | (11,883.151) | (9,697.367) | (6,980.004) | (4,280.423) | (1,428.322) | 2,424.431 | 7,078.940 |
| 5 | | **Accumulative Net Profit** | (9,652.724) | (11,820.769) | (12,412.295) | (11,883.151) | (9,697.367) | (6,980.004) | (4,280.423) | (1,428.322) | 2,424.431 | 7,078.940 | 12,498.282 |

| | | | |
|---|---|---|---|
| **Note Pay Back Period is** | | | **Period** |
| **Year 1 to 8** | | - | **8 Years** |
| **Year 8** | **(1428.322/2424.431)** | **0.59** | **6 Months** |
| **Recoupment Period is** | | - | **8 Years and 6 Months** |

**SOUTHEASTASIANET TECHNOLOGIES MYANMAR LIMITED**

**CASH FLOW STATEMENT**

**Annexuare(11)**

| Sr | | Year 1 | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 |
|---|---|---|---|---|---|---|---|---|---|---|---|
| 1 | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 | 11 | |
| 1 | CASH IN FLOW | | | | | | | | | | |
| | 1 Equity Capital | 9652.724 | | | | | | | | | |
| | 2 Profit After Tax | (2,718.817) | (1,142.298) | (21.628) | 1,635.012 | 2,166.591 | 2,148.808 | 2,301.329 | 3,301.980 | 4,103.736 | 4,868.570 |
| | 3 Depreciation | 497.972 | 497.972 | 497.972 | 497.972 | 497.972 | 497.972 | 497.972 | 497.972 | 497.972 | 497.972 |
| | | 7,431.879 | (644.326) | 476.344 | 2,132.984 | 2,664.563 | 2,646.781 | 2,799.301 | 3,799.953 | 4,601.709 | 5,366.542 |
| 2 | CASH OUT FLOW | | | | | | | | | | |
| | Machineries | | | | | | | | | | |
| 3 | NET CASH FLOW | 497.972 | | | | | | | | | |
| 4 | OPENING BALANCE | | 497.972 | (146.354) | 329.990 | 2,462.974 | 5,127.537 | 7,774.318 | 10,573.619 | 14,373.572 | 18,975.281 |
| 5 | CLOSING BALANCE | 497.972 | (146.354) | 329.990 | 2,462.974 | 5,127.537 | 7,774.318 | 10,573.619 | 14,373.572 | 18,975.281 | 24,341.823 |




ရတနာပုံတယ်လီပို့အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်ပိုင် Satellite Antenna Yard ရှိ
11.1 meter Satellite Parabolic Antenna တစ်ခုနှင့် Antenna Yard အတွင်းမြေ
ငှားရမ်းခြင်းသဘောတူစာချုပ်

Contract No-YTP/Lease/001/2016

ဤသဘောတူစာချုပ်ကို ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ (၁) ရက်နေ့တွင် အမှတ်-၂၅၊ တက္ကသိုလ်များ လှိုင်နယ်မြေ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့တွင်တည်ရှိသော ရတနာပုံတယ်လီပို့ အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက် (နောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် တသားအရ သော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများ နှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်) ၏ ကိုယ်စား ဦးစိုးသိန်း၊ အမှုဆောင်အရာရှိချုပ် က တစ်ဖက်

နှင့်

အဆောင် (၃)၊ အခန်း (၈)၊ MICT Park, တက္ကသိုလ်များ လှိုင်နယ်မြေ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့တွင် တည်ရှိသော Southeastasianet Technologies Myanmar Co., Ltd. (SEANET Technologies) (ဤမှ နောင်တွင် "အငှားချထားခြင်းခံရသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် တသားအရသော် လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ယင်း၏ဆက်ခံသူများ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟုမှတ်ယူရမည်) ၏ ကိုယ်စား ဦးပြုံးမောင်မောင်က အခြားတစ်ဖက်တို့သည် အောက်ပါ စည်းကမ်းချက်များအတိုင်း လိုက်နာလုပ်ကိုင် ဆောင်ရွက်ရန်အတွက် ဤ သဘောတူ စာချုပ်ကိုချုပ်ဆို ကြပါသည်။

ဤမှနောင်တွင် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ" တစ်ဦးချင်းစီအားရည်ညွှန်းလိုပါက "စာချုပ်ဝင်" ဟုလည်းကောင်း၊ စုပေါင်းရည်ညွှန်းလိုပါက "စာချုပ်ဝင်များ" ဟုလည်းကောင်း ရည်ညွှန်းခေါ်ဆို မည်ဖြစ်ပါသည်။

၁။ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

၁-၁။ အငှားချထားသူသည် အငှားချထားသည့် Satellite Antenna Yard ရှိ 11.1 meter Satellite Parabolic Antenna တစ်ခုနှင့် Antenna Yard အတွင်းမြေကိုဥပဒေနှင့်အညီ တရားဝင် အမည်ပေါက် ပိုင်ဆိုင်ခွင့်ရှိသူဖြစ်ကြောင်း နှင့် အဆိုပါ ငှားရမ်းပစ္စည်းများ နှင့် ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက တာဝန်ယူဖြေရှင်းပေးနိုင်သူဖြစ်ကြောင်း အာမခံသည်။

၁-၂။ အငှားချထားခြင်းခံရသူသည် ကြိုးမဲ့ဆက်သွယ်ရေးလုပ်ငန်း လုပ်ဆောင်ရန် သတ်မှတ်ထား သော ဥပဒေနည်းဥပဒေများနှင့်အညီ လိုင်စင်နှင့်လုပ်ငန်းဆောင်ရွက်ခွင့်ရရှိပြီးသူ ဖြစ်ကြောင်း နှင့် စာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အား ပြည့်စုံသူများဖြစ်ကြောင်း အာမခံပါသည်။

YTP

SEANET

၂။ နိဒါန်း

ဤသဘောတူစာချုပ်အရ "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ"၏ Satellite Antenna Yard ရှိ 11.1 meter Satellite Parabolic Antenna တစ်ခုနှင့် Antenna Yard အတွင်းမြေကို ငှားရမ်းသုံးစွဲလိုပါသောကြောင့် အောက်ဖော်ပြပါ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဤသဘောတူ စာချုပ်ကို ချုပ်ဆိုကြခြင်းဖြစ်ပါသည်။

၃။ လုပ်ငန်းတည်နေရာ

ဤသဘောတူစာချုပ်ပါ ဆောင်ရွက်မည့် လုပ်ငန်းတည်နေရာမှာ အမှတ်-၂၅၊ တက္ကသိုလ်များ လှိုင်နယ်မြေ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့ရှိ "အငှားချထားသူ" ပိုင် Antenna Yard အတွင်း ၁၅မီတာ ×၂၀မီတာ=၃၀၀ စတုရန်းမီတာ အကျယ်အဝန်းရှိ မြေနေရာဝန်း အတွင်းဖြစ်ပါသည်။ အငှားချထားမည့် နေရာပုံစံအား နောက်ဆက်တွဲ (က) ဖြင့် ဖော်ပြထားပါသည်။

၄။ ဆောင်ရွက်မည့်လုပ်ငန်း

ဤသဘောတူစာချုပ်အရ အမှတ်-၂၅၊ တက္ကသိုလ်များလှိုင်နယ်မြေ လှိုင်မြို့နယ်၊ ရန်ကုန်မြို့တွင် တည်ရှိသော "အငှားချထားသူ" ပိုင် Satellite Antenna Yard ရှိ 11.1 meter Satellite Parabolic Antenna တစ်ခုနှင့် Antenna Yard အတွင်းမြေကို "အငှားချထားခြင်းခံရသူ" သို့ငှားရမ်းခြင်း လုပ်ငန်း ဖြစ်ပါသည်။

၅။ စာချုပ်ဝင်များ၏တာဝန်များ

ဤသဘောတူစာချုပ်အရ စာချုပ်ဝင်အသီးသီးတို့၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

အငှားချထားသူ ၏တာဝန်များ

(က) အငှားချထားသူသည် ငှားရမ်းထားသော Satellite Antenna Yard ရှိ 11.1 meter Satellite Parabolic Antenna တစ်ခုနှင့် Antenna Yard အတွင်းမြေနှင့် စပ်လျဉ်း၍ အကြောင်းကိစ္စများ ပေါ်ပေါက်ပါက သက်ဆိုင်ရာအာဏာပိုင်များနှင့် ဆက်သွယ်ဆောင်ရွက်ရန်၊ လိုအပ်သည်များ ရှိပါက လိုအပ်သလိုထောက်ခံ ဆောင်ရွက်ပေးရန်နှင့် ငှားရမ်းသက်တမ်း ကာလအတွင်း အငှားချထားခြင်းခံရသူ အား အေးချမ်းစွာအသုံးပြုခွင့်ပေးရန် သဘောတူပါသည်။

(ခ) အငှားချထားသူသည် အငှားချထားစဉ်ကာလအတွင်း အကြောင်းပြချက် တစ်စုံတစ်ရာဖြင့် ငှားရမ်းခြင်းကိုရပ်စဲခြင်းမပြုရ၊ အငှားချထားစဉ်ကာလအတွင်း အငှားချထားသူ၏သဘောဆန္ဒ အရ (သို့မဟုတ်) တစ်ဦးဦး၏ ဝင်ရောက်တောင်းဆိုမှုအရ (သို့မဟုတ်) အငှားချထားသူ၏ ယုံကြည် အပ်နှံသူတို့မှ ပါဝင်ပတ်သက်မှုများဖြင့် ဝင်ရောက်နှောင့်ယှက်ခြင်း မရှိစေရ။

(ဂ) အငှားချထားသူ ၏ 11.1 meter Antenna ကိုအငှားချထားခြင်းခံရသူက Ku-Band Satellite Antenna အဖြစ် သုံးစွဲမည်ကို သဘောတူပါသည်။

(ဃ) အငှားချထားသူသည် အငှားချထားခြင်းခံရသူက ငှားရမ်းထားသည့်မြေတွင် 9.3 m Satellite Antenna ကိုတပ်ဆင်ကာ C- band Satellite စနစ်တပ်ဆင်ရန် သဘောတူပါသည်။

(င) အငှားချထားသူသည် အငှားချထားခြင်းခံရသူ ပိုင် Satellite System နစ်စု၏ဝက်ပစ္စည်းများ အား Container များတွင် ထည့်သွင်းကာ ငှားရမ်းသည့်မြေတွင်ထားရှိမည်ကို သဘောတူပါ သည်။



YTP SEANET

(စ) အငှားချထားသူသည် အငှားချထားခြင်းခံရသူကလိုအပ်သည့် Internet Capacity နှင့် လျှပ်စစ်ဓာတ်အားကို သတ်မှတ်ထားသည့် နှုန်းထားများအတိုင်း ငှားရမ်းပေးရန် သဘောတူပါသည်။

(ဆ) အငှားချထားသူသည် လက်ရှိ မိမိဆောင်ရွက်နေသော Satellite Service ကို ဆက်လက်မဆောင်ရွက်တော့သည့်အချိန်၌ လတ်တလောတွင် အသုံးပြုလျက်ရှိသော 5 meter antenna ကို ဖြုတ်သိမ်းခြင်း မပြုဘဲ အငှားချထားခြင်းခံရသူ သို့ အရန်အဖြစ်ထားပေးရန် သဘောတူပါသည်။

(ဇ) အငှားချထားသူသည် ငှားရမ်းထားသည့် Satellite Antenna Yard ရှိ 11.1 meter Satellite Parabolic Antenna တစ်စုနှင့် Antenna Yard အတွင်းမြေများကို ငှားရမ်းကာလ ကုန်ဆုံးချိန်တွင် ဆက်လက်ငှားရမ်းပေးခြင်းမပြုလိုလျှင် အငှားချထားခြင်းခံရသူသို့ ငှားရမ်း ကာလ မကုန်ဆုံးမီ (၆)လ ကြိုတင်၍ အကြောင်းကြားရမည် ။

(ဈ) အငှားချထားသူသည် နှစ်ဘက်သဘောတူစာချုပ်ချုပ်ဆိုသည့်ရက်မှ ၂လ (ရက် ၆၀) ကို အငှားချထားခြင်းခံရသူ၏ Network တည်ဆောက်ချိန်အဖြစ်သတ်မှတ်ပေးရန် နှင့် ၂ လ ပြည့်ပြီးသည့်ကာလနှင့် စက်ပစ္စည်းများအားသုံးတပ်ဆင်ပြီးစီး (System implementation & commissioning ပြီးစီး) သည့် ကာလနှစ်မျိုးအနက် စောသည့်ကာလမှစတင်၍ လစဉ်ကြေး ကောက်ခံရန် သဘောတူပါသည်။

အငှားချထားခြင်းခံရသူ၏တာဝန်များ

(က) အငှားချထားခြင်းခံရသူသည် မြေခွန်မှအပလုပ်ငန်းဆောင်ရွက်မှုနှင့် သက်ဆိုင်သည့် အခြား အခွန်အခအရပ်ရပ် နှင့် ဤစာချုပ်ချုပ်ဆိုခြင်းအတွက် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို ပေးဆောင်ရမည်။

(ခ) အငှားချထားခြင်းခံရသူသည် ငှားရမ်းထားသော Satellite Antenna Yard ရှိ 11.1 meter Satellite Parabolic Antenna တစ်စုနှင့် Antenna Yard အတွင်းမြေများကို အသုံးပြုရာတွင် တည်ဆဲဥပဒေအရ လုပ်ကိုင်ခွင့်ပြုထားသော လုပ်ငန်းများကိုသာ လုပ်ကိုင်ဆောင်ရွက်ရမည်။ ငှားရမ်းကာလ ကုန်ဆုံးသောအခါတွင်ဖြစ်စေ (သို့မဟုတ်) ထပ်မံတိုးချဲ့ငှားရမ်းခြင်း မပြုလုပ်သောအခါတွင်ဖြစ်စေ ၎င်း Satellite Antenna Yard ရှိ 11.1 meter Satellite Parabolic Antenna တစ်စုနှင့် Antenna Yard အတွင်းမြေများကို သပ်ရပ်ကောင်းမွန်သော အနေအထားဖြင့် အငှားချထားသူထံသို့ ပြန်လည်လွှဲပြောင်းပေးရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် ငှားရမ်းထားသည့် Satellite Antenna Yard ရှိ 11.1 meter Satellite Parabolic Antenna တစ်စုနှင့် Antenna Yard အတွင်းမြေများကို ငှားရမ်းကာလ ကုန်ဆုံးချိန်တွင် ဆက်လက်ငှားရမ်းရယူခြင်းမပြုလိုလျှင် အငှားချထားသူသို့ ငှားရမ်းကာလ မကုန်ဆုံးမီ (၆) လ ကြိုတင်၍ အကြောင်းကြားရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် ငှားရမ်းထားသည့် ပတ်ဝန်းကျင်တစ်ဝိုက်တွင် ညစ်ညမ်းမှုလုံခြုံမှု နှင့် မီးအန္တရာယ်ကာကွယ်မှုတို့အတွက် လိုအပ်သောကြိုတင်ပြင်ဆင်မှုများကို ၎င်း၏စရိတ် ဖြင့် ကျခံဆောင်ရွက်ရမည်။



YTP SEANF

(င) အငှားချထားခြင်းခံရသူ သည် အငှားချထားသူ၏ စာဖြင့်ခွင့်ပြုချက်မရရှိဘဲ မိမိငှားရမ်းခွင့်ရရှိထားသည့် အငှားချထားသူ ပိုင်ဆိုင်သော Satellite Antenna Yard ရှိ 11.1 meter Satellite Parabolic Antenna တစ်ခုနှင့် Antenna Yard အတွင်းမြေများကို ထပ်ဆင့်လွှဲပြောင်းခြင်း၊ ထပ်ဆင့်ငှားရမ်းခြင်းမပြုလုပ်ရ၊

(စ) အငှားချထားခြင်းခံရသူသည် အငှားချထားသည့် Antenna နှင့် မြေငှားရမ်းခြင်းအတွက် စာချုပ်သက်တမ်းကာလအတွင်း တစ်လချင်း၏ငှားရမ်းခကို လစဉ်လဆန်းရက်များ၌ ကြိုတင်ပေးချေရန် သဘောတူပါသည်။

(ဆ) အငှားချထားခြင်းခံရသူသည် လျှပ်စစ်ဓါတ်အား (Civil Power / Generator Power နှင့် UPS Power) နှစ်မျိုးအတွက် အငှားချထားသူ သတ်မှတ်ပေးသည့် Electric Terminal မှ သွယ်တန်းရယူရန်နှင့် လျှပ်စစ်မီတာနှစ်လုံးကို သီးခြားစီတပ်ဆင် အသုံးပြုရန် သဘောတူပါသည်။

(ဇ) အငှားချထားခြင်းခံရသူသည် မီတာ(၂)မျိုးတွင်ဖော်ပြမည့် လျှပ်စစ်မီတာ ယူနစ်ပေါင်းအတွက် လျှပ်စစ်ဓာတ်အားခအဖြစ် တစ်ယူနစ်လျှင် ၁၇၅ ကျပ် နှုန်းဖြင့် လစဉ်ကျသင့်မီတာခကို ပေးချေရန်သဘောတူပါသည်။ ဖော်ပြပါနှုန်းထားသည် နိုင်ငံတော်ကသတ်မှတ်ထားသည့် လျှပ်စစ်ဓါတ်အားခနှုန်းထား ပြောင်းလဲသတ်မှတ်ခြင်း မပြုမီကာလအထိ ပြောင်းလဲမှုမရှိပါ။ အကယ်၍ နိုင်ငံတော်မှ လျှပ်စစ်ဓာတ်အားခနှုန်းထားများကို ပြင်ဆင်ပြောင်းလဲ သတ်မှတ်ခဲ့လျှင် စာချုပ်ဝင်များအကြား ပြန်လည်ညှိနှိုင်း၍ နှစ်ဖက်သဘောတူညီမှုဖြင့် လျှပ်စစ်ဓာတ်အားခကို ပြင်ဆင်သတ်မှတ်ကြရန်သဘောတူပါသည်။

(ဈ) အငှားချထားခြင်းခံရသူသည်အငှားချထားသူ ပိုင် UPS (Uninterruptable Power Supply System) ကို မျှဝေသုံးစွဲခြင်းအတွက် တစ်လလျှင် အမေရိကန်ဒေါ်လာ ၉၉၂.၀၇ ကို သီးခြားပေးချေရန် သဘောတူပါသည်။

၆။ ငှားရမ်းခ

၆-၁။ ဤသဘောတူစာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ အငှားချထားသည့် Antenna နှင့် မြေငှားရမ်းခြင်း ငှားရမ်းခအဖြစ် တစ်လလျှင် အမေရိကန်ဒေါ်လာ ၁၇,၀၀၀ (စာဖြင့်-တစ်သောင်းခုနစ်ထောင်တိတိ) ပေးချေရမည်ဖြစ်ပါသည်။ ယင်းတစ်လစာငှားရမ်းခနှင့် အတူ နိုင်ငံတော်သို့ ပေးဆောင်ရန် အခွန် (Commercial Tax) ၅ရာခိုင်နှုန်းဖြစ်သော အမေရိကန်ဒေါ်လာ ၈၅၀(စာဖြင့်- ရှစ်ရာငါးဆယ်တိတိ) ကိုတစ်ပါတည်းလစဉ်ပေးချေရမည်ဖြစ်ပါသည်။

၆-၂။ သာမန်အားဖြင့် လျှပ်စစ်ဓာတ်အားမီတာခအဖြစ် တစ်ယူနစ်လျှင် ၁၇၅ ကျပ်နှုန်းဖြင့် လစဉ်ကျသင့်မီတာခကို ပေးချေရမည်ဖြစ်ပါသည်။

၆-၃။ အငှားချထားခြင်းခံရသူသည်အငှားချထားသူပိုင် UPS (Uninterruptable Power Supply System) ကို မျှဝေသုံးစွဲခြင်းအတွက် တစ်လလျှင် အမေရိကန်ဒေါ်လာ ၉၉၂.၀၇ ကို လစဉ်သီးခြားပေးချေရမည် ဖြစ်ပါသည်။

၆-၄။ သတ်မှတ်ထားသည့် ငှားရမ်းခကို ငွေပေးချေသည့်နေ့ရှိ မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ ငွေလဲလှယ်နှုန်းအရ ပြည်တွင်းသုံး ကျပ်ငွေဖြင့်ပေးချေနိုင်ပါသည်။

၇။ ငှားရမ်းသက်တမ်းနှင့် စာချုပ်စတင်အကျိုးသက်ရောက်ခြင်း

ဤသဘောတူစာချုပ်သက်တမ်းသည် (၅)နှစ်ဖြစ်ပြီး စာချုပ်စတင်အကျိုးသက်ရောက်သည့် ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ (၁)ရက်နေ့မှစ၍ ၂၀၂၁ ခုနှစ်၊ ဇန်နဝါရီလ (၃၁) ရက်နေ့အထိ ဖြစ်ပါသည်။ စာချုပ်ဝင်များနှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် စာချုပ်သက်တမ်းကို တိုးမြှင့်နိုင်ပါသည်။

၈။ အငှားချထားသည့်ပစ္စည်းများအားပြန်လည်လွှဲပြောင်းခြင်း

၈-၁။ အငှားကာလကုန်ဆုံးပြီးနောက် (၁၅)ရက်အတွင်း အငှားချထားခြင်းခံရသူက မိမိစရိတ်ဖြင့် ဝယ်ယူတပ်ဆင်ထားသော ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းအားလုံးဖြုတ်ယူ၍ မူလလွှဲပြောင်းပေးစဉ်က အခြေအနေတိုင်း အငှားချထားသူသို့ အဖိုးစားနားမပါရှိဘဲ ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

၈-၂။ အငှားကာလကုန်ဆုံးချိန်တွင် ထပ်မံငှားရမ်းလိုပါက ငှားရမ်းကာလမကုန်ဆုံးမီ(၆)လကြိုတင်၍ စာဖြင့်အကြောင်းကြားရမည်။

၈-၃။ စာချုပ်သက်တမ်းတိုးမြှင့်ခဲ့ပါက ငှားရမ်းခနှုန်းထားကို နှစ်ဦးနှစ်ဘက် ညှိနှိုင်း၍သတ်မှတ်ပြီး စာချုပ်သစ်ထပ်မံချုပ်ဆိုရမည်။ ၎င်းစာချုပ်သည် ယခုစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

၉။ အခွန်အခများ

စာချုပ်ဝင်အသီးသီးသည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်းများအရ မိမိတို့အပေါ်တာဝန်ကျရောက်သည့် ပေးဆောင်ရမည့် အခွန်အခများကိုပေးဆောင်ရမည်။

၁၀။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၀-၁။ ဤစာချုပ်ပါ ပြဌာန်းချက်များနှင့် မသက်ဆိုင်စေဘဲ စာချုပ်ဝင် တစ်ဖက်ဖက်သည် စာချုပ်ပါ တာဝန်တစ်ရပ်လုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ အကောင်အထည်ဖော် ဆောင်ရွက်ရန်(သို့မဟုတ်) စာချုပ်ဝင်အခြားတစ်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန် ယာယီအားဖြင့် မစွမ်းဆောင်နိုင်သည့် အခြေအနေသို့ သက်ရောက်စေသော ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော မလွန်ဆန်နိုင်သည့်ဖြစ်ရပ်၊ ဘေးအန္တရာယ်ပေါ်ပေါက်ကျရောက်ခဲ့လျှင် ထိုသို့ကြုံတွေ့ရသည့် စာချုပ်ဝင်သည် ထိုဖြစ်ရပ်များပေါ်ပေါက်ကြုံတွေ့ရသည့် အဖြစ်အပျက်အပြည့်အစုံကို စာဖြင့်ရေးသား၍ တစ်ဖက်စာချုပ်ဝင်သို့ ယင်းသို့ စတင်ကြုံတွေ့ရသည့်နေ့မှ(၁၄)ရက်အတွင်း အကြောင်းကြားရမည်။ ထိုသို့ကြုံတွေ့ရသည့် အခြေအနေအပေါ် တစ်ဘက်စာချုပ်ဝင်၏အတည်ပြုမှုဖြင့် ထိုသို့မစွမ်းဆောင်နိုင်မှု ပေါ်ပေါက်နေသည့် ကာလအတွက် ကင်းလွတ်ခွင့်ပြုနိုင်သည်။ ထိုပျက်ကွက်နှောင့်နှေးမှုများအတွက် မည်သည့်စာချုပ်ဝင်တွင်မှ တာဝန်မရှိစေရ။

၁၀-၂။ မလွန်ဆန်နိုင်သော ဘေးအန္တရာယ်များဆိုသည်မှာ အစိုးရမှတားမြစ်ချက်များ၊ သပိတ်မှောက်မှုများ၊ စစ်ဖြစ်ခြင်း၊ စီးပွားရေးပိတ်ဆို့ခြင်း၊ အဓိကရုဏ်းများဖြစ်ခြင်း၊ သူပုန်ထခြင်း၊ ကပ်ရောဂါများဖြစ်ပွားခြင်း၊ ဗုံးပေါက်ကွဲခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်း

ကျရောက်ခြင်းနှင့် တစ်ဦးဦးကထိန်းချုပ်၍မရနိုင်သော ထိုက်သင့်သောဂရုပြုမှု၊ ဝီရိယ စိုက်ထုတ်မှုဖြင့် ကျော်လွှားနိုင်ခြင်းမရှိသော အလားတူအကြောင်းတစ်ရပ်ရပ်ကိုဆိုသည်။

၁၁။ **စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

အငှားစာချုပ်တွင် မျှော်မှန်းမထားသောအခြေအနေများပေါ်ပေါက်လာခြင်းကြောင့် ဤအငှားစာချုပ်ကို ပြင်ဆင်ရန်လိုပါက စာချုပ်ဝင်များသည် နှစ်ဦးနှစ်ဘက်ညှိနှိုင်းပြီး ပြင်ဆင်နိုင်ခွင့်ရှိစေရမည်။ ထိုသို့ ပြင်ဆင်ချက်များသည် ဤအငှားစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ်ပါဝင်သည်ဟု မှတ်ယူရမည်။

၁၂။ **စာချုပ်ကိုပြောင်းလဲပြင်ဆင်ဖြည့်စွက်ခြင်း**

ဤ သဘောတူစာချုပ်ကို နှစ်ဖက်စာချုပ်ဝင်များအကြားစာဖြင့်ရေးသား လက်မှတ်ရေးထိုးသည့် သဘော တူညီချက်မရှိဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း၊ နုတ်ပယ်ခြင်း၊ အစားထိုးခြင်းမပြုလုပ်ရ၊ ဤစာချုပ်တွင် ရေးသားဖော်ပြပေါ်လွင်ခြင်းမရှိသော အနေအထား အခြေအနေတစ်ရပ်ရပ် ပေါ်ပေါက် လာလျှင်ဖြစ်စေ၊ စာချုပ်ပါစည်းကမ်းချက် ပြဋ္ဌာန်းချက်တစ်ရပ်ရပ်ကို ပြင်ဆင်ရန်နှင့် ထပ်မံဖြည့်စွက်ရန် လိုအပ်လာလျှင် ဖြစ်စေ၊ စာချုပ်ဝင်များသည် လိုအပ်သော ဆွေးနွေးညှိနှိုင်းမှုပြုလုပ်ကြပြီး နှစ်ဖက် သဘောတူညီချက်ကို စာဖြင့် ရေးသားလက်မှတ်ရေးထိုးလျှက် ပြင်ဆင်ရမည်။ အဆိုပါ ပြင်ဆင်ချက်အား ဤသဘောတူ စာချုပ်၏ အစိတ်အပိုင်းအဖြစ် မှတ်ယူရမည်။

၁၃။ **အငြင်းပွားမှုဖြေရှင်းခြင်း**

၁၃-၁။ စာချုပ်ဝင်များအကြား ဤစာချုပ်နှင့်စပ်လျဉ်း၍ဖြစ်စေ၊ ဤစာချုပ်မှ ဆက်စပ်၍ဖြစ်စေ၊ အငြင်းပွားမှု ပေါ်ပေါက်ပါက ရှေးဦးစွာ စာချုပ်ဝင်များအကြား နှစ်ဖက်သဘောတူညှိနှိုင်း ဆွေးနွေးမှုဖြင့် အငြင်းပွားမှုပြေငြိမ်းစေရန် ဆောင်ရွက်ရမည်။

၁၃-၂။ ရက်ပေါင်း(၃၀)အတွင်း ထိုသို့နှစ်ဖက်ညှိနှိုင်းဆွေးနွေးမှု မအောင်မြင်၊ ပြေငြိမ်းမှုမရှိပါက ထိုအငြင်းပွားမှုကို အနညာတနည်းအားဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော်တွင် ဖြေရှင်းရမည်။ အနညာတခုံလူကြီးတစ်ဦးစီကို စာချုပ်ဝင်တစ်ဖက်စီက ခန့်ထားပြီး ထိုအငြင်းပွားမှုကိုဖြေရှင်းပါလျက် အငြင်းပွားမှုမပြီးပြတ်ပါက ယင်းအနညာတခုံ လူကြီးနှစ်ဦးက နောက်ဆုံးအဆင့်ခုံသမာဓိလူကြီး (Umpire) တစ်ဦးကို နှစ်ဖက်သဘောတူ ရွေးချယ်ပြီး ဆုံးဖြတ်စေရမည်။ အနညာတခုံလူကြီးနှစ်ဦး (သို့မဟုတ်) ခုံသမာဓိလူကြီး၏ အဆုံးအဖြတ်သည် အပြီးသတ်ဖြစ်စေရမည့်အပြင် စာချုပ်ဝင်များအပေါ် အတည်ဖြစ်စေရမည်။ အနညာတခုံဖြင့် ဆောင်ရွက်ရာတွင် ၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံ အနညာတအက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေ-၄/၁၉၄၄)နှင့် နောက်ပိုင်းပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။

၁၄။ **စာချုပ်ရပ်စဲခြင်း**

၁၄-၁။ အောက်ပါကိစ္စတစ်ရပ်ရပ်ဖြစ်ပေါ်လာပါက နစ်နာသူစာချုပ်ဝင်က စာဖြင့်ရေးသား၍ ရက်ပေါင်း (၃၀) ကြိုတင်အကြောင်းကြားပြီး ဤစာချုပ်ကိုရပ်စဲနိုင်သည်-

၁၄-၁-၁။ စာချုပ်ဝင်တစ်ဖက်ဖက်က ဤစာချုပ်တွင်ဖော်ပြထားသော တာဝန်ဝတ္တရား များကို ပြည့်စုံစွာတာဝန်ယူမဆောင်ရွက်နိုင်ခြင်း၊

၁၄-၁-၂။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ (၁)လထက်ကျော်လွန်ပြီး ဆက်တိုက်ဖြစ်ပေါ် လာခြင်း။

၁၄-၁-၃။ စာချုပ်ဝင်တစ်ဦးဦးက စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်အားဖောက်ဖျက်ခြင်း။

၁၄-၂။ အောက်ပါအခြေအနေများကြောင့်လည်း စာချုပ်ရပ်စဲနိုင်သည်-

၁၄-၂-၁။ စာချုပ်ဝင်များက စာချုပ်ရပ်စဲရန်စာဖြင့် ရေးသားသဘောတူခြင်း၊

၁၄-၂-၂။ စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

၁၄-၃။ အထက်အပိုဒ် - ၁၄(၁)ပါ အကြောင်းတစ်ရပ်ရပ်ဖြင့် စာချုပ်ရပ်စဲခြင်းကြောင့် စာချုပ်ဝင် တစ်ဖက်ဖက်တွင် နစ်နာဆုံးရှုံးမှုဖြစ်ပေါ်ပါလျှင်၊ ကျန်စာချုပ်ဝင်မှ ယင်းနစ်နာဆုံးရှုံးမှုအား ပြန်လည်ညှိနှိုင်း ဖြည့်ဆည်းဆောင်ရွက်ပေးရမည်။

၁၄-၄။ ဤသဘောတူစာချုပ်အားရပ်စဲခြင်းသည် စာချုပ်ဝင်များအကြားတည်ရှိသည့် ငွေကြေးဆိုင်ရာ ရရန်၊ ပေးရန်တာဝန်များနှင့်စပ်လျဉ်းသည့် စည်းကမ်းချက်များကို ထိခိုက်စေခြင်းမရှိစေဘဲ အဆိုပါတာဝန်များကို အပြည့်အဝ လိုက်နာဆောင်ရွက်ပြီးစီးသည်အထိ ဆက်လက် အကျိုး သက်ရောက်စေရမည်။

၁၅။ ဆက်သွယ်ဆောင်ရွက်မှု

စာချုပ်ဝင်များအကြား လိုအပ်သောဆက်သွယ်မှုများကို မြန်မာဘာသာဖြင့် ပေးပို့ရမည်။ အဆိုပါ အကြောင်းကြားစာကို တံဆိပ်ခေါင်းကပ်ထားသောစာဖြင့်ဖြစ်စေ၊ တဲလက်(စ်)ဖြင့်ဖြစ်စေ၊ ဖက်(စ်)ဖြင့် ဖြစ်စေ၊ အီးမေးလ်ဖြင့်ဖြစ်စေ အောက်ပါလိပ်စာများ (သို့မဟုတ်) တရားဝင်ပြောင်းလဲထားသော လိပ်စာများ အတိုင်း ရေးသားပေးပို့ရပါမည်-

"အငှားချထားသူ"

| | |
|---|---|
| လိပ်စာ | - အမှတ်-၂၅၊ တက္ကသိုလ်များလှိုင်နယ်မြေ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| အီးမေးလ် | - soethein@teleport.ne t.mm |
| တယ်လီဖုန်း | - (၉၅) ၀၁-၆၅၂၂၃၃ |
| ဖက်စ် | - (၉၅) ၀၁-၆၅၂၂၄၄ |
| လိပ်မူသူ | - ဦးစိုးသိန်း |

"အငှားချထားခြင်းခံရသူ"

| | |
|---|---|
| လိပ်စာ | - အဆောင် (၃)၊ အခန်း (၈)၊ MICT Park၊ လှိုင်တက္ကသိုလ်များဝင်း၊ လှိုင်မြို့နယ်။ |
| အီးမေးလ် | - pyonemm@seanetmsc.com |
| တယ်လီဖုန်း | - (၉၅) ၀၁ ၆၅၂ ၂၈၁ |
| ဖက်စ် | - (၉၅) ၀၁ ၆၅၂ ၂၈၁ |
| လိပ်မူသူ | - ဦးပြုံးမောင်မောင် |

၁၆။ အထွေထွေ

မြန်မာဘာသာဖြင့် ရေးသားထားသည့် ဤသဘောတူစာချုပ်အား စာချုပ်ဝင်တစ်ဦးဦး၏ လိုအပ်ချက်အရ အင်္ဂလိပ်ဘာသာဖြင့် ပြန်ဆိုပြုစုထားနိုင်သည်။ ထိုသို့ မြန်မာဘာသာဖြင့်ပြုစုထားသော စာချုပ်နှင့် အင်္ဂလိပ်ဘာသာဖြင့်ပြန်ဆိုထားသော (စာချုပ်ဘာသာပြန်) တို့တွင် တစ်စုံတစ်ရာကွဲပြားခြားနားသော ဆိုလိုချက်များ ပေါ်ပေါက်ခဲ့သည်ရှိသော် မြန်မာဘာသာဖြင့်ပြုစုထားသည့် ဤစာချုပ်သည်သာ စာချုပ်ဝင်များအပေါ်တွင် လွှမ်းမိုးမှုရှိမည်ဖြစ်ကြောင်း စာချုပ်ဝင်များကသဘောတူကြပါသည်။

၁၆-၁။ ပြီးပြည့်စုံသောသဘောတူညီချက်

ဤစာချုပ်ကို နှစ်ဦးနှစ်ဘက် သဘောပေါက်နားလည်ကြသဖြင့် ယင်းအကြောင်းအရာများအပေါ်ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများ အားလုံးကို လွှမ်းမိုးသည်။

၁၆-၂။ ဆက်လက်တည်ရှိခြင်း

ဤသဘောတူညီချက်ပါ စည်းကမ်းချက်တစ်ရပ်ရပ်သည် အခွင့်အာဏာရှိသော တရားရုံး၏ ဆုံးဖြတ်ချက်အရ တရားမဝင်ခြင်း၊ အတည်မဖြစ်ခြင်းများရှိပါက ဤအချက်သည် သဘောတူစာချုပ်ပါ အခြားသောစည်းကမ်းချက်များကို ထိခိုက်ခြင်းမရှိစေရဘဲ ဆက်လက်အကျိုးသက်ရောက်စေရမည်။ စာချုပ်ဝင်များသည် ၎င်းတို့၏ရည်ရွယ်ချက်နှင့်ညီညွတ်စေမည့် တရားဝင်အတည်ပြုနိုင်သောစည်းကမ်းချက်ဖြင့် ပြင်ဆင်အစားထိုးဆောင်ရွက်နိုင်ရေးအတွက် ရိုးဖြောင့်သောသဘောဖြင့် ဆွေးနွေးရန်သဘောတူကြသည်။

၁၇။ လွှမ်းမိုးသောဥပဒေ

ဤသဘောတူစာချုပ်ပါ ပြဌာန်းချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း တည်ဆဲဥပဒေများနှင့်အညီ အဓိပ္ပါယ်ဖွင့်ဆိုခြင်း၊ လိုက်နာဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရမည် ဖြစ်ပါသည်။

၁၈။ မူရင်းကွဲများ

ဤသဘောတူစာချုပ်အား မူရင်းခွဲ (၂)စောင်ပြုလုပ်၍ လက်မှတ်ရေးထိုးချုပ်ဆိုကြပြီး အဆိုပါမူရင်းခွဲ တစ်စောင်စီသည် တူညီစွာအကျိုးသက်ရောက်မှုရှိသော စစ်မှန်သောမူရင်းများအဖြစ်မှတ်ယူရမည်။



YTP SEANET

သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ဝင်များသည် ဤ သဘောတူစာချုပ်အား အထက်တွင် ဖော်ပြခဲ့သောရက်၊ လ၊ ခုနှစ် တွင် မိမိတို့၏အမည်များကိုဖော်ပြလျက် အသီးသီးလက်မှတ်ရေးထိုးတံဆိပ်ခတ်နှိပ်ကြပါသည်။

"အငှားချထားသူ"

လက်မှတ် - ..................................

အမည် - ဦးစိုးသိန်း

ရာထူး - အမှုဆောင်အရာရှိချုပ်

ရတနာပုံတယ်လီပို့အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်

"အငှားချထားခြင်းခံရသူ"

လက်မှတ် - ..................................

အမည် - ဦးပြုံးမောင်မောင်

ရာထူး - အုပ်ချုပ်မှုဒါရိုက်တာ

Southeastasianet Technologies Myanmar Company Limited

အသိသက်သေများ

လက်မှတ် - ..................................

အမည် - ဦးတင်မောင်အေး

ရာထူး - အမှုဆောင်ဒါရိုက်တာ

ရတနာပုံတယ်လီပို့အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်

လက်မှတ် - ..................................

အမည် - ဦးဝင်းနိုင်

ရာထူး - Senior Manager (Engineering)

Southeastasianet Technologies Myanmar Company Limited

## 11.1m Antenna details:

Model : 11.1M KPK

Make : GD SATCOM ANTENNA

Serial Number : 02-114

MFG Code : 12481-1

GD Satcom job number : 124811




# မြေငှားစာချုပ်

## ရှုရင်း

29 FEB 2012

၂၀၁၂ ခုနှစ်၊ (မြေငှား) အမှတ်တွဲ အမှတ် ၅၇ / ၂၅-ကမာရွတ် / ၇၂၉ / ၂၀၁၂ အရ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟုရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် ရှုရင်း မြို့နေ၊ ဦး ___ -___ ၏၊ သား/သမီး ဖြစ်သော ဦး ရတနာပုံတယ်လီပို့ကုမ္ပဏီ လီမိတက် အမျိုးသားမှတ်ပုံတင်အမှတ် ၆၁၁ / ၂၀၀၉ -၂၀၁၀ (နောက်တွင် "အငှားစာချုပ်ရသူ" ခေါ်ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃ ၇၃ ခုနှစ်၊ တပေါင်း လဆန်း/လပြည့်ကျော် ၁ ရက်နေ့ ၊ ခရစ် ၂၀၁၂ ခုနှစ်၊ ( မတ် လ ၈ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူ အားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့ တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၈.၃.၂၀၁၂ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၂ ခုနှစ် မတ် လ ၈ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၁၃၂၀၀/- ပြား ___-___ ( ကျပ် တစ်သောင်း သုံးထောင် နှစ်ရာ- ) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း ၊ ဧပြီ လ ၁ – ရက် နေ့ မှ စ သည့် သုံး လ ပတ် အ တွက် ဧပြီ ၁–ရက်နေ့တွင် လည်းကောင်း ၊ ဇူလိုင်လ –၁ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင်ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယ တဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက်အပိုဒ် ၃–တွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအားသတ်မှတ်သည့်မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည်။

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆-လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့် ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါ မြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြား အတွင်းအဆိုပါ မြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့် လူနေအိမ်ကို လူနေအိမ်အဖြစ်မှ တစ်ပါး အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၄င်းမြေ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြားတွင်ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်း သင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက် တည်ရှိသည့် အဆောက်အအုံ၊ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂-အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ် ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

# အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉ ၂၀၀၂ ခုနှစ် အတွင်းတွင် ဖြစ်စေ ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၄င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက်ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာ ချုပ်ကို ပယ်ဖျက်၍အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲကွယ် ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။



20 FEB 2012 အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည် ။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည် ။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည် ။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည် သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန် ။ သို့ ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ ရွာနှင့်အိုးအိမ်ဖွံ့ ဖြိုးရေးဦးစီးဌာန၏ အမှုထမ်း များ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ ရွာနှင့်အိုးအိမ်ဖွံ့ ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန် ။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ် ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည် ။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန် ။

(ဂ) ( ၂၀၄၇ ) ခုနှစ်၊ ဖော် လ၊ ( ၇ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန် ။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး ဆောင်ရန် ။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း၊ အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှ ခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန် ။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန် ။

ဤစာချုပ်ပါစကားရပ်များကိုသိရှိနားလည်ကြပြီးဖြစ်သဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ ရတနာပုံကယ်လီဗိုကုမ္ပဏီလီမိတက်သည် ဤစာချုပ်ကိုအထက်၌ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့ - ရန်ကုန်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် **ဦးခင်မောင်လိှုင်** [illegible]

(ဆောက်လုပ်ရေးဝန်ကြီးဌာန / တံဆိပ် / မြေနှင့်အခွန်ဌာနခွဲ / မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန)

ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် **ဦးခင်မိုး**

ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး **ဦးအောင်ကျော်ဦး** တို့
ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

ညွှန်ကြားရေးမှူး

**အသိသက်သေ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) **ဦးဟန်ချိုဦး**

အငှားစာချုပ်ရသူ ရတနာပုံကယ်လီဗိုကုမ္ပဏီလီမိတက် က
လက်မှတ်ရေးထိုးသည်။

အငှားစာချုပ်ရသူ

ရတနာပုံကယ်လီဗိုကုမ္ပဏီလီမိတက်

**အသိသက်သေ။**

၁။ ဦးမြင့်ဦး၊ ၁၂/ဓဂဒ(နိုင်)၀၁၀၈၃၃၊ အမှတ် (၈၄)၊ [illegible]

၂။ ဦးနိုင်အောင်၊ ၁၂/လကန(နိုင်)၀၁၈၁၁၁၊ အခန်း (၅၀၁)၊ [illegible] ရန်ကုန်

**ဦးစိုးထွန်း**
**မြေနှင့်အခွန်ဌာနခွဲ**
မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

**အထက်တွင် ရည်ညွှန်းထားသည့် မြေ**

**လက်ထောက်ညွှန်ကြားရေးမှူး**
**မြေနှင့်အခွန်ဌာနခွဲ(ရုံးချုပ်)**

လူနေရပ်ကွက်အမှတ် ____

မြေတိုင်းရပ်ကွက်အမှတ် ၂၅ - ကမာရွတ်

ရန်ကုန်မြို့ လှိုင် မြို့နယ်။

အတွင်းရှိ ____ တန်းစား၊ မြေကွက်အမှတ် ၃၄ ၂/၁ ,၃/က ,၃/ခ ,၆/က ,၈/ဆ ,၁၀/ခ ,၁၁/က,
ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ____ ပေ၊ အနံ ____ ပေခန့်ရှိသော အလား အလာ၁၀/ဂ

အရှေ့လားသော် ကမာရွတ် ပတ်လမ်း၊ မြေကွက်အမှတ် - ၁၁/က

အနောက်လားသော် မြေကွက်အမှတ် - ၁-၄ / B-၃ ၊ မြေကွက်အမှတ်-၄ ၊ ၁/င,၃/က,၆/ခ,၇/က,၇/ခ,၀/ခ,
၉/က,၉/ခ

တောင်လားသော် မြေကွက်အမှတ် - ၈/ဆ ၊ ၁၂ ၊ ပေါက်ကျောင်းလမ်း

မြောက်လားသော် M.I.C.T PARK

အတွင်းရှိ မြေအားလုံး ဧရိယာ ၁၅.၅၈၆ ဧက၊ (စတုရန်းပေ ၆၇၆၇၅၆၇ )



- 6 JAN 2012

**“ <u>အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်းလုပ်ငန်းသဘောတူကတိစာချုပ်</u> ”**
**(မြေပိုင်ရှင် – Myanmar ICT Development Corporation Limited (မြန်မာအင်ဖိုတက် ကော်ပိုရေးရှင်းလီမိတက်)ပိုင် မြေကွက်ပေါ်တွင် အဆောက်အဦဆောက်လုပ်သူ ACE Data Systems Limited. နှင့် CE Technology Co., Ltd. တို့ က တာဝန်ယူဆောက်လုပ်မည့် ၈–ထပ် R.C.C အဆောက်အဦဆောက်လုပ်ခြင်းလုပ်ငန်း)**

ဤစာချုပ်ကို စာချုပ်ဝင်ပုဂ္ဂိုလ်များက ရန်ကုန်တိုင်းဒေသကြီးတွင် ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီလ ( ၆ )ရက်နေ့တွင် အောက်ပါအတိုင်း ချုပ်ဆိုကြသည်မှာ -

**<u>စာချုပ်အပိုဒ်–(၁)</u>**

ရန်ကုန်တိုင်းဒေသကြီး၊လှိုင်မြို့နယ်၊တက္ကသိုလ်များလှိုင်နယ်မြေတွင် တည်ရှိသော Myanmar ICT Development Corporation Limited (မြန်မာအင်ဖိုတက် ကော်ပိုရေးရှင်းလီမိတက်) ( နောင်တွင် <u>လုပ်ငန်းအပ်နှံသူ</u> ဟုဆက်လက် ခေါ်တွင်စေရမည်ဖြစ်သည် ) ၎င်း၏ကိုယ်စား ( ၁၈ - ၁၁ - ၂၀၁၁ )ရက်စွဲပါ ဒါရိုက်တာအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက်အရ ဦးအောင်ဇော်မြင့် က လက်မှတ်ရေးထိုးသည်။

( ဤစာချုပ်တွင် ဆက်လက်ဖော်ပြသည်မှာ လုပ်ငန်းအပ်နှံသူဟုဆိုရာတွင် လုပ်ငန်းအပ်နှံသူနှင့် ၎င်း၏ဆက်ခံသူများ၊ တရားဝင်လွှဲအပ်ခြင်းခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များပါ ပါဝင်သည်ဟု မှတ်ယူရမည်။ )

တစ်ဖက်နှင့်

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြန်မာအင်ဖိုတက်၊အဆောက်(၂) အခန်း(၂၄) တွင် တည်ရှိသော၊ ACE Data Systems Limited. ၎င်း၏ကိုယ်စား ( ၂၃ - ၁၂ -၂၀၁၁ ) ရက်စွဲပါ ဒါရိုက်တာ အဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်အရ ဦးသိန်းဦး က လက်မှတ်ရေးထိုးသည်။

၂။ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တံတားမြို့နယ်၊ပန်းဆိုးတန်းလမ်း၊အပေါ်ဘလောက်၊ အဆောက်-၂၄၆၊ အခန်း (၂၀၁၊၃၀၁)မြေညီထပ် တွင် တည်ရှိသော CE Technology Co., Ltd. ၎င်း၏ကိုယ်စား ( ၂၃ - ၁၂ -၂၀၁၁ ) ရက်စွဲပါ ဒါရိုက်တာအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက်အရ ဦးပြုံးမောင်မောင် က လက်မှတ်ရေးထိုးသည်။

( ဤစာချုပ်တွင် ဆက်လက်ဖော်ပြသည်မှာ လုပ်ငန်းလက်ခံသူများဟုဆိုရာတွင် လုပ်ငန်းလက်ခံသူများနှင့် ၎င်း၏ဆက်ခံသူများ၊ တရားဝင်လွှဲအပ်ခြင်းခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များပါ ပါဝင်သည်ဟု မှတ်ယူရမည်။ )တို့က အခြားတစ်ဖက်တို့သည် အောက်ပါအတိုင်း ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

(နောင်တွင် <u>လုပ်ငန်းလက်ခံသူများ</u> ဟု ဆက်လက်ခေါ်တွင် စေရမည်ဖြစ်သည်။)

**စာချုပ်အပိုဒ်-(၂) အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း။**

လုပ်ငန်းအပ်နှံသူသည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-( ၂၄၊ ၂၅၊ ၂၆/ကမာရွတ် )၊ လူနေရပ်ကွက်အမှတ်-( ၁၃/က$^{၂}$၊ ၂/က$^{၂}$၊ ၁/ဃ$^{၄/၁}$၊ ၁/င$^{၂}$ )၊ မြေကွက်အမှတ်-(၂/က၊ ၁၀/က၊ ၉/ဆ$^{၁}$၊ ၃/ခ$^{B-၂}$ )အရ နှစ်(၆၀)ဂရန်မြေ၊ မြေဧရိယာစုစုပေါင်း-( ၂၂.၉၁၂ )ဧကအား ၂၀၀၂ခုနှစ် (မြေငှား)အမှုတွဲအမှတ် လ-၂/၂၀၀၂ အရ တရားဝင်ပိုင်ဆိုင်ပါကြောင်းနှင့် ၎င်းတို့အနက်မှ Function Hall တည်ရှိရာ အဆောက်အဦးဟောင်းကို ဖြိုဖျက်၍ အကျယ် (၁၈၄ပေ×၁၀၀ပေ) အကျယ်ရှိ မြေပေါ်တွင် **(၈)**ထပ် အဆောက်အဦ၊အာစီအမျိုးအစား ဆောက်လုပ်ရန်နှင့် ဤစာချုပ်ပါ စည်းကမ်းချက်များ အတိုင်း လုပ်ငန်းလက်ခံသူများနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်း သဘောတူစာချုပ်ကို ချုပ်ဆိုရန် အခွင့်အာဏာ ပေးအပ်ထားကြောင်း အာမခံပါသည်။ လုပ်ငန်းလက်ခံသူများ မှလည်း အဆိုပါ လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ငွေကြေးအင်အားပြည့်စုံသူဖြစ်ပါကြောင်းနှင့် ဤစာချုပ်ပါ စည်းကမ်းချက် များအတိုင်း လုပ်ငန်းအပ်နှံသူနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်းသဘောတူစာချုပ်ကို ချုပ်ဆိုရန် အခွင့်အာဏာပေးအပ်ထားကြောင်း အာမခံပါသည်။မြေကွက်၏မြေပုံကို **နောက်ဆက်တွဲ(က)**ဖြင့် ပူးတွဲထားပါသည်။

**စာချုပ်အပိုဒ်-(၃) လုပ်ငန်းအမည်**

မြန်မာအင်ဖိုတက် ကော်ပိုရေးရှင်းလီမိတက်ပိုင် (၁၈၄ပေ×၁၀၀ပေ)အကျယ်ရှိ မြေကွက်ပေါ်တွင် ၈ထပ် အဆောက်အဦ၊ အာစီအမျိုးအစား ဆောက်လုပ်ခြင်းလုပ်ငန်းနှင့် အကျိုးတူပူးပေါင်း ဆောင်ရွက်ခြင်း လုပ်ငန်းဟုခေါ်ဆိုမည်။

**စာချုပ်အပိုဒ်-(၄) လုပ်ငန်း၏ခန့်မှန်းခြေတန်ဖိုး၊ ကုန်ကျစရိတ်နှင့် တာဝန်**

လုပ်ငန်း၏ခန့်မှန်းခြေတန်ဖိုးသည် ကျပ်သိန်း(၁၅၀၀၀) ( ကျပ်သိန်း တစ်သောင်းငါးထောင်)ခန့် သတ်မှတ်ပါသည်။ လုပ်ငန်းတစ်ခုလုံး၏ ကုန်ကျစရိတ်များကို လုပ်ငန်းပြီးစီးသည်အထိ လုပ်ငန်း လက်ခံသူက ကျခံရမည့်အပြင် အောက်ပါလုပ်ငန်းများ၏ ကုန်ကျစရိတ်ကိုလည်း လုပ်ငန်းလက်ခံသူများက ကျခံရမည် ဖြစ်ပါသည်။

(၄-၁) လမ်း၊ ကားရပ်နားရန်နေရာ ( Car Parking )၊ လျှပ်စစ်ဓါတ်အားခွဲရုံ၊ အဝီစိတွင်း နှင့် Ground Tank များ၊ Landscaping အစရှိသည့် Infrastructure နှင့်ပတ်သက်သော လုပ်ငန်းများ။

(၄-၂) ဒီဇိုင်းရေးဆွဲခြင်း၊ Soil Test ၊ Survey ၊ လုပ်ငန်းစစ်အင်ဂျင်နီယာထားပေးခြင်း။

**စာချုပ်အပိုဒ်-(၅) ဆောက်လုပ်မည့်အဆောက်အဦပုံစံ**

အလျား(၁၈၄ပေ×အနံ၁၀၀ပေ)ရှိ (၈)ထပ် RC အဆောက်အဦဖြစ်ပါသည်။ (အသေးစိတ် အဆောက်အဦပုံစံကို **"နောက်ဆက်တွဲ(ခ)"** ဖြင့် Detail Drawing များ ပူးတွဲထားပါသည်။ )

**စာချုပ်အပိုဒ်-(၆) အဆောက်အဦပုံစံပြင်ဆင်ခြင်း**

နောက်ဆက်တွဲ(ခ)ပါ ပုံစံအတိုင်းဆောက်လုပ်ရမည်။အတွင်းပိုင်းပြင်ဆင်မှုကို ပြင်ဆင်လိုပါက လုပ်ငန်းကြီးကြပ်ရေးအဖွဲ့၏ ကြိုတင်ခွင့်ပြုချက်ကို ရယူရမည်။ ပြင်ဆင်မည့်အဆောက်အဦပုံစံနှင့် ပြင်ဆင်ချင်သည့်အကြောင်းအရာများကို (၁)ပတ်အတွင်း လုပ်ငန်းလက်ခံသူများက အတိုင်ပင်ခံ အင်ဂျင်နီယာ အဖွဲ့သို့ တင်ပြရမည်။

**စာချုပ်အပိုဒ်-(၇) ညွှန်ကြားချက်ကိုလိုက်နာဆောင်ရွက်ခြင်း**

လုပ်ငန်းလက်ခံသူများသည် လုပ်ငန်းကြီးကြပ်ရေးအဖွဲ့ကိုယ်စား လုပ်ငန်းအတိုင်ပင်ခံအင်ဂျင်နီယာအဖွဲ့က ညွှန်ကြားထားသည့်အတိုင်း လိုက်နာဆောင်ရွက်ရမည်။ လုပ်ငန်းကြီးကြပ်ရေးအဖွဲ့၏ ညွှန်ကြားချက်များသည် ဤစာချုပ်ပါ သဘောတူညီချက်များ၊ သတ်မှတ်စံညွှန်းများအား မဆန့်ကျင်စေရ။

**စာချုပ်အပိုဒ်-(၈) ဆောင်ရွက်ဆဲလုပ်ငန်းများကိုစစ်ဆေးခြင်း**

လုပ်ငန်းဆောင်ရွက်ဆဲကာလအတွင်း လုပ်ငန်းအပ်နှံသူ (သို့) လုပ်ငန်းအပ်နှံသူမှ တာဝန်ပေးသူများက စစ်ဆေးရာတွင် အတည်ပြုပုံစံနှင့် ကိုက်ညီခြင်းမရှိကြောင်း တွေ့လျှင်သော်လည်းကောင်း၊ သတ်မှတ်ထားသည့်စံချိန်စံညွှန်းနှင့်မကိုက်ညီသည့်ပစ္စည်းများသုံးစွဲထားကြောင်း တွေ့လျှင်သော် လည်းကောင်း၊ အင်ဂျင်နီယာနည်းနိသရည်းများနှင့်ကိုက်ညီစွာ မဆောင်ရွက်ကြောင်း တွေ့လျှင်သော် လည်းကောင်း၊ ပြင်ဆင်ရန် (သို့) ပစ္စည်းများလဲလှယ်သုံးစွဲဆောက်လုပ်စေရန် စာဖြင့် အကြောင်းကြားစာ ပေးပို့မည်ဖြစ်ပြီး ထို ညွှန်ကြားခြင်းကို လုပ်ငန်း လက်ခံသူများက မပျက်မကွက်လိုက်နာဆောင်ရွက်ရမည်။ ထိုသို့ ဆောင်ရွက်ခြင်း အတွက် ကုန်ကျ သည့် တန်ဖိုးများကို လုပ်ငန်းအပ်နှံသူမှ ထပ်မံသုံးစွဲခြင်းပြုမည်မဟုတ်ဘဲ လုပ်ငန်း လက်ခံသူများ၏ ကုန်ကျစရိတ် ဖြင့်သာ ကျခံဆောင်ရွက်ရမည်။

**စာချုပ်အပိုဒ်-(၉) လုပ်ငန်းစတင်ရက်**

အဆောက်အဦ ဆောက်လုပ်ရန် မြေစတင် တူးသည့်ရက် (ပိုင်လုပ်ငန်းစတင်သည့်ရက်)ကို လုပ်ငန်းစတင်ရက်ဟု သတ်မှတ်ပါသည်။ အဆောက်အဦ၏ ပုံစံ၊ အရောင်၊ အမျိုးအစား များအားလုံးကို လုပ်ငန်းအပ်နှံသူမှ သတ်မှတ်ပေးသည့်အတိုင်း ဆောက်လုပ်ရမည်ဖြစ် သည်။

**စာချုပ်အပိုဒ်-(၁၀) လုပ်ငန်းပြီးဆုံးရက်**

လုပ်ငန်းစတင်သည့်နေ့ရက်မှ (၁)နှစ်နှင့်(၆)လအတွက် လုပ်ငန်းပြီးဆုံးရက်ရေတွက်ခြင်းကို ပိုင်ရိုက်ခြင်းလုပ်ငန်းပြီးဆုံးသည့်နေ့မှ စတင်ရေတွက်သည်။ အကယ်၍ အဆိုပါသတ်မှတ်ရက်တွင် လုပ်ငန်းမပြီးပါက လုပ်ငန်းအပ်နှံသူ၏ နစ်နာမှုကို အောက်ပါအတိုင်း ပေးလျော်ရမည်ကို လုပ်ငန်း လက်ခံသူများကသိရှိဝန်ခံကတိပြုပါသည်။

(က) နောက်တိုးကာလ ပထမ (၆)လအတွက် တစ်လလျှင် ကျပ် ၃၀၀,၀၀၀/- နှုန်း

(ခ) နောက်တိုးကာလ ဒုတိယ (၆)လအတွက် တစ်လလျှင် ကျပ် ၃၅၀,၀၀၀/- နှုန်းများဖြင့် မြန်မာအင်ဖိုတက်သို့ ပေးအပ်ရမည့်အခန်းများမှ ကျန်ရှိအခန်းများအား တန်ဖိုး သတ်မှတ်ရန်ဖြစ်သည်။

**မှတ်ချက်** ။ ။ အကယ်၍ အထက်အပိုဒ်-၁၀(ခ)အရ နောက်တိုးကာလ ဒုတိယ (၆)လအတွင်း လုပ်ငန်းလက်ခံသူမှ လုပ်ငန်းမပြီးနိုင်ပါက လုပ်ငန်းအားလုံးကို လုပ်ငန်းအပ်နှံသူဘက်မှ တစ်ဘက်သတ်ပြန်လည်လွှဲပြောင်းရယူပိုင်ခွင့်ရှိမည် ဖြစ်ပါသည်။ ယင်းသို့သော အခြေအနေတွင် ဆောင်ရွက်ပြီးသည့်အခြေအနေအထိ တန်ဘိုးကို လုပ်ငန်းအပ်နှံသူမှ သတ်မှတ်ပေးချေသည့်အစီအစဉ်အတိုင်း လုပ်ငန်းလက်ခံသူများမှ ရယူပါမည်ဟု ဝန်ခံ ကတိပြုပါသည်။

**စာချုပ်အပိုဒ်-(၁၁) ဆိုင်းငံ့ကာလ**

မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့်လည်းကောင်း၊ မမျှော်မှန်းနိုင်သောသဘာဝဘေးအန္တရာယ်ကြောင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်ရန်အခက်အခဲဖြစ်ပါက ထိုပုဂ္ဂိုလ်ဘက်မှ အခြား တဘက်သို့ (၁၄)ရက်အတွင်း စာဖြင့်ရေးသားအကြောင်းကြားရမည်။ ထိုကာလအတွက် ဆိုင်းငံ့ကာလ သတ်မှတ်ရန်နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ဆောင်ရွက်ရမည်။

**စာချုပ်အပိုဒ်-(၁၂) ပျက်စီးဆုံးရှုံးမှုများ**

လုပ်ငန်းတည်ဆောက်ဆဲကာလအတွင်း အကြောင်းတစ်စုံတစ်ရာကြောင့် ဖြစ်ပေါ်လာသော ပျက်စီးဆုံးရှုံးမှုအတွက် လုပ်ငန်းလက်ခံသူများတွင် တာဝန်ရှိသည်။ အစိုးရအသိအမှတ်ပြု အာမခံ လုပ်ငန်းတွင် ဤစာချုပ်ပါလုပ်ငန်းအတွက် အာမခံထားရန် လိုအပ်ပါက လုပ်ငန်းလက်ခံသူများမှ တာဝန်ယူ ဆောင်ရွက်ရမည်။ ပျက်စီးဆုံးရှုံးမှုများအား စံချိန်စံညွှန်းနှင့်အညီ ပြန်လည်ပြုပြင် တည်ဆောက်ရသည့် ကုန်ကျစရိတ်ကို လုပ်ငန်း လက်ခံသူများမှ ကျခံရမည်။

**စာချုပ်အပိုဒ်-(၁၃) အာမခံထားရှိခြင်း**

လုပ်ငန်းလက်ခံသူများမှ မိမိ၏စရိတ်ဖြင့် လုပ်ငန်းတည်ဆောက်ဆဲကာလတွင် လုပ်ငန်းနှင့် ဝန်ထမ်းများ အတွက် အာမခံထားရှိနိုင်သည်။ ထို့အတူ အဆောက်အဦပြီးစီးချိန် လုပ်ငန်းလည်ပတ်နေစဉ်ကာလတွင် အဆောက်အဦ၊ အသုံးအဆောင်၊ ဝန်ထမ်းများအတွက် လိုအပ်သော အာမခံထားရှိမှုကို မိမိအစီအစဉ်ဖြင့် ဆောင်ရွက်နိုင်သည်။

**စာချုပ်အပိုဒ်-(၁၄) ရှေးဟောင်းပစ္စည်းများနှင့်အဖိုးတန်ပစ္စည်း**

လုပ်ငန်းဆောင်ရွက်ရန်အတွက် မြေကွက်ကိုတူးဖော်ခြင်း၊ အုတ်မြစ်ချခြင်းများ ပြုလုပ်ရာတွင် ရှေးဟောင်းပစ္စည်းများ၊ စိန်၊ ရွှေ ငွေ၊ ကျောက်သံ၊ ပတ္တမြားစသော အဖိုးတန်ရတနာများ၊ ရေနံ၊ ဓါတ်သတ္တုပစ္စည်းများကို တွေ့ရှိပါက သက်ဆိုင်ရာသို့ မချွင်းမချန် ပေးအပ်ရန် လုပ်ငန်းလက်ခံသူများက တာဝန်ယူသည်။ အကယ်၍ ရေနံ၊ ဓါတ်ငွေ့၊ ရတနာသိုက်၊ သတ္တု၊ ကျောက်မီးသွေး၊ စသည်တို့ကို တွေ့ရှိပြီး၊ စီးပွားဖြစ်လုပ်ငန်း လုပ်ကိုင်နိုင်မည့်အနေအထားရှိပါက လုပ်ငန်းအပ်နှံသူက ထိုနေရာကို ပြန်လည်ရယူပြီး၊ အခြားသင့်တော်သော နေရာတွင် အစားထိုးချထားပေးမည်။

**စာချုပ်အပိုဒ်-(၁၅) အကျိုးအမြတ်ခွဲဝေခံစားခြင်း**

လုပ်ငန်းအပ်နှံသူနှင့် လုပ်ငန်းလက်ခံသူများသည် အခန်းပေးအခန်းယူစနစ်ကိုအခြေခံ၍ စာချုပ်အပိုဒ် (၁၆) တွင် ဖော်ပြထားသည့်အတိုင်း အခန်းများကို ခွဲဝေယူကြမည်ဖြစ်ပါသည်။

**စာချုပ်အပိုဒ်-(၁၆) အကျိုးအမြတ်ခွဲဝေခံစားရန်နည်းလမ်း**

အကျိုးအမြတ်ခွဲဝေခံစားနိုင်ရန် အောက်ပါနည်းလမ်းများကို ကျင့်သုံးမည်။

(က) အကျိုးအမြတ်ခွဲဝေမှုအရ အဆောက်အဦဆောက်လုပ်ပြီးစီးပါက အောက်ဆုံး(၂)လွှာ နှင့် အထပ်တိုင်းရှိ Hall ဧရိယာများ အပါအဝင် အဆောက်အဦဧရိယာ၏ (၃)ပုံ(၁)ပုံကို လုပ်ငန်းအပ်နှံသူမှ ရရှိခံစားမည် ဖြစ်သည်။နောက်ဆက်တွဲ (ခ) ပါ **Detail Drawing** များအတိုင်း တစ်လွှာလျှင် အခန်း(၁၂)ခန်း၊Hall (၁)ခန်း၊Lobby (၁)ခန်းနှင့် Toilet ခန်း (၄)ခန်း ပါရှိရမည်။ဒုတိယအလွှာမှ အဌမအလွှာအထိ ခြောက်လွှာမှ (Hall ဧရိယာမပါ) ကျန်ရုံးခန်းများကို လုပ်ငန်းလက်ခံသူများက ရရှိခံစားမည်ဖြစ်သည်။ လုပ်ငန်းအပ်နှံသူမှ ရရှိမည့် (၈)ထပ် အဆောက် အဦ၏ အောက်ဆုံး (၂)လွှာနှင့် အထပ်တိုင်းရှိ Hall ဧရိယာများအား အခန်း၊ တံခါး၊ မျက်နှာကျက်၊ ရေ မီး၊ Toilet များအား ပူးတွဲပါ နောက်ဆက်တွဲ (ဂ)ပါ **Detail Drawing များအတိုင်း** ဆောက်လုပ်တပ်ဆင်ပေးရမည်ဖြစ် သည်။ သို့ရာတွင် မိမိ၏လုပ်ငန်း အသုံးစရိတ်အခွန်အခများ၊ ပြင်ဆင်စရိတ်များအား မိမိ ကျခံရန်။

(ခ) အဆောက်အဦဆောက်လုပ်ပြီးစီးပါက လုပ်ငန်းအပ်နှံသူနှင့် လုပ်ငန်းလက်ခံသူတို့ ရရှိမည့် အခန်းများကို အငှားချထားနိုင်သည်။ ( IT နှင့်ပတ်သက်သော လုပ်ငန်းများကိုသာ လုပ်ဆောင်ရမည်ဖြစ်သည်။ )

(ဂ) အဆောက်အဦများသည် ရုံးခန်းဖွင့်လှစ်လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက်သာဖြစ်ပြီး၊ လူနေထိုင်ခွင့်မရှိပါ။

(ဃ) အဆောက်အဦများ ဆောက်လုပ်ပြီးစီး၍ ရုံးခန်းများ စတင်ဖွင့်လှစ်လုပ်ကိုင် ဆောင်ရွက်သည့် အချိန်မှစ၍ သာယာရေးကော်မတီမှ သတ်မှတ်ထားသော စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာကျင့်သုံးရမည်။

(င) လုပ်ငန်းအပ်နှံသူက လုပ်ငန်းပြီးစီးကြောင်း စစ်ဆေးလက်ခံပြီးမှသာ အခန်းများအား တရားဝင် လက်ရောက်လွှဲပြောင်း ရယူမည်ဖြစ်သည်။ လုပ်ငန်းလက်ခံသူများမှ အကျိုးခံစားခွင့်ရရှိသည့် အခန်းများသည် စာချုပ်နှစ်ကာလ အတွင်းလုပ်ငန်းလက်ခံသူများ၏ စီမံခန့်ခွဲမှုနှင့် အကျိုးခံစားမှု လုံးဝရှိစေရမည်။

**စာချုပ်အပိုဒ်-(၁၇) စာချုပ်ပါအကြောင်းအချက်များကိုပြင်ဆင်ဖြည့်စွက်ခြင်း**

စာချုပ်ပါ အကြောင်းအချက်များ (သို့) စည်းကမ်းချက်များကို ပြင်ဆင်ဖြည့်စွက်ရန် အကြောင်း ပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့်သာ ပြင်ဆင်ဖြည့်စွက်နိုင်သည်။ ပြင်ဆင် ဖြည့်စွက်ချက်ကို စာနှင့်ရေးသား၍ နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးရမည်။

**စာချုပ်အပိုဒ်-(၁၈) လုပ်ငန်းလက်ခံသူ၏ချွတ်ယွင်းပျက်ကွက်မှု**

လုပ်ငန်းအတိုင်ပင်ခံအင်ဂျင်နီယာအဖွဲ့၏ တင်ပြချက်အရ လုပ်ငန်းလက်ခံသူများ၏ ချွတ်ယွင်း ပျက်ကွက်မှုကြောင့် လုပ်ငန်းကိုဆက်လက်ဆောင်ရွက်နိုင်စွမ်းမရှိလျှင်သော်လည်းကောင်း၊ လုပ်ငန်းတိုးတက်မှု မရှိလျှင် သော်လည်းကောင်း၊ စာချုပ်ပါစည်းကမ်းဖောက်ဖျက်လျှင်သော်လည်းကောင်း၊ လုပ်ငန်း ကြီးကြပ်ရေး အဖွဲ့၊ အတိုင်ပင်ခံအဖွဲ့တို့က ပြင်ဆင်ဖြည့်စွက်ဆောင်ရွက်ရန် ညွှန်ကြားချက်ကို မလိုက်နာလျှင်သော်လည်း ကောင်း ပြင်ဆင်ဆောင်ရွက်ရန် လုပ်ငန်းအပ်နှံသူမှ လုပ်ငန်းလက်ခံသူများထံ ဦးစွာ အကြောင်းကြားစာ ပေးပို့ရမည်။ထိုသို့ အကြောင်းကြားစာပေးပို့ပြီးနောက် ဆက်လက်ပျက်ကွက် ချို့ယွင်းမှု ရှိလျှင် ဆောင်ရွက်ဆဲ လုပ်ငန်း တစ်ခုလုံးကို လုပ်ငန်းအပ်နှံသူက သိမ်းယူပြီး ဆက်လက်ဆောင်ရွက်မည် ဖြစ်သည်။ ထိုသို့ဆောင်ရွက် သည့်အတွက် လုပ်ငန်းလက်ခံသူများသို့ လျော်ကြေးငွေ တစ်စုံတစ်ရာပေးရန် တာဝန်မရှိကြောင်း သဘောတူညီ ကြပါသည်။ အလားတူ လုပ်ငန်းအပ်နှံသူ၏ ပျက်ကွက်မှု၊ ချို့ယွင်းမှု၊ အကောင်အထည်မဖော်နိုင်မှု၊ ဤသဘောတူစာချုပ်ကို ဖောက်ဖျက်မှု၊ တစ်စုံတစ်ရာ အနှောင့်အယှက်ကြောင့် လုပ်ငန်းနှောင့်နှေးခြင်း၊ မဆောင်ရွက်နိုင်ခြင်းရှိလာပါက လုပ်ငန်းလက်ခံသူများ၏ ကုန်ကျစရိတ်နှင့်တကွ နစ်နာကြေးကိုပါ လုပ်ငန်း အပ်နှံသူက ပေးဆောင်ရမည် ဖြစ်ပါသည်။

**စာချုပ်အပိုဒ်-(၁၉) ဆက်လက်ဆောင်ရွက်သည့်လုပ်ငန်းအတွက်ကုန်ကျစရိတ်**

မပြီးဆုံးသေးသောလုပ်ငန်း၏ ဆောင်ရွက်ရန် ကျန်သည့်လုပ်ငန်းကို လုပ်ငန်းအပ်နှံသူက ပြီးဆုံးသည် အထိ ဆောင်ရွက်ရသည့်အတွက် နစ်နာမှုများရှိလာပါက နစ်နာကုန်ကျသည့်စရိတ်များနှင့် ဌားရမ်းခများကို လုပ်ငန်းလက်ခံသူက ကျခံရမည်။ ထိုသို့ ကျခံပြီး လုပ်ငန်းပြီးဆုံးခဲ့လျှင် ဤစာချုပ် အပိုဒ်(၁၆)ပါ အခွင့်အရေး များအတိုင်း လုပ်ငန်းလက်ခံသူများမှ ဆက်လက်ခံစားနိုင်သည်။

**စာချုပ်အပိုဒ်-(၂၀) အလုပ်သမားများ၏အခွင့်အရေး**

လုပ်ငန်းခွင်တွင်အလုပ်လုပ်ကြမည့် အလုပ်သမားအားလုံး၏ အခွင့်အရေးအားလုံး ( ဥပမာ-လုပ်ငန်း ခွင်ထိခိုက်ဒဏ်ရာရရှိမှုများ၊ သေဆုံးမှုများအတွက် လိုအပ်သော အာမခံကိစ္စရပ်များ ) နှင့် စည်းကမ်း ထိန်းသိမ်း ရေးကိစ္စအားလုံးကို လုပ်ငန်းလက်ခံသူများမှ တာဝန်ယူရမည်။

**စာချုပ်အပိုဒ်-(၂၁) ပျက်စီးမှုများ**

ဆောက်လုပ်ပြီး အဆောက်အဦများကို လွှဲပြောင်းလက်ခံပြီးသည့်နေ့မှ (၆)လအတွင်း ပေါ်ပေါက် လာသော စံချိန်စံညွှန်းမမှီသည့် ပျက်စီးမှုများကို လုပ်ငန်းလက်ခံသူများက စရိတ်ကျခံ၍ စံချိန်စံညွှန်းမှီ သည်အထိ ပြန်လည်ပြင်ဆင်ပေးရန် တာဝန်ယူရမည်။ ထို့အတူ ချို့ယွင်းမှု၊ ယုတ်လျော့မှုများကိုလည်း စာချုပ်သက်တမ်းကုန်သည်အထိ (အချိုးကျ)ဆက်လက်ပြုပြင်ရမည်။

**စာချုပ်အပိုဒ်-(၂၂) လုပ်ငန်းလုပ်ဆောင်မည့်သူများစာရင်း**

အဆောက်အဦဆောက်လုပ်ပြီးစီး၍ လုပ်ငန်းအပ်နှံသူထံ လွှဲပြောင်းပေးပြီးနောက် လုပ်ငန်း လက်ခံသူများက အကျိုးခံစားခွင့်ရရှိထားသော အခန်းများကို အဆိုပါအဆောက်အဦများတွင် လုပ်ငန်းလုပ်ဆောင်မည့် အဖွဲ့အစည်းများ၊ ကုမ္ပဏီများအား ပြန်လည်အငှားချထားပိုင်ခွင့်ရှိသည်။ အဆောက်အဦ နေရာ ချထားမှု စာရင်းနှင့်တကွ အငှားချထားပြီး (၁)လအတွင်း လုပ်ငန်းအပ်နှံသူထံ တင်ပြရမည်။

**စာချုပ်အပိုဒ်-(၂၃) လုပ်ငန်းအပ်နှံခြင်း**

ဤစာချုပ်ပါသတ်မှတ်ချက်အတိုင်း လုပ်ငန်းများအားလုံးပြီးစီးလျှင် လုပ်ငန်းလက်ခံသူများက လုပ်ငန်းအပ်နှံသူအား ပြီးစီးကြောင်းစာဖြင့် အကြောင်းကြားရမည်။ လုပ်ငန်းအပ်နှံသူ၏ ကိုယ်စားလှယ် နှင့် လုပ်ငန်းလက်ခံသူများ၏ ကိုယ်စားလှယ်တို့သည် လုပ်ငန်းများကို စာချုပ်ပါသတ်မှတ်ပြဋ္ဌာန်းချက်များ နှင့်အညီ အတူတကွ စစ်ဆေး၍ ချို့ယွင်းချက်နှင့် လိုအပ်ချက်များ တွေ့ရှိပါက လုပ်ငန်းအပ်နှံသူ ကျေနပ်သည်အထိ လုပ်ငန်း လက်ခံသူများမှ ပြန်လည်ပြုပြင်ပြီးမှသာ လွှဲပြောင်းလက်ခံခြင်းပုံစံတွင် နှစ်ဦးနှစ်ဖက် သဘောတူ ဖြည့်စွက် လက်မှတ်ရေးထိုးလွှဲပြောင်းခြင်း၊ လက်ခံခြင်း ပြုလုပ်ရမည်။ လုပ်ငန်းအားလုံး မပြီးစီးသေးသော်လည်း လုပ်ငန်း အချို့ပြီးစီး၍ လုပ်ငန်းအပ်နှံသူအနေဖြင့် အသုံးပြုနိုင်သည့် အခြေအနေမျိုးရှိလာပါက ချွင်းချက်ဖြင့် အဆိုပါ ပြီးစီးသည့်လုပ်ငန်းအချို့ကို လွှဲပြောင်းလက်ခံနိုင်သည်။လုပ်ငန်းလက်ခံသူက အဆောက်အဦများကို ဆောက် လုပ်ပြီးစီး၍ လုပ်ငန်းအပ်နှံသူထံ အပ်နှံပြီးနောက် လုပ်ငန်းအပ်နှံသူမှ စစ်ဆေးပြီး တရားဝင် လွှဲပြောင်း ပေးရမည်။ လုပ်ငန်းလက်ခံသူများသည် လုပ်ငန်း အပ်နှံသူထံသို့ အပြီးအပိုင်လွှဲပြောင်းအပ်နှံရာတွင် လုပ်ငန်းခွင်ရှိ လုပ်ငန်းလက်ခံသူပိုင် ပစ္စည်းများနှင့် စက်ယန္တရားများအားလုံးကို သိမ်းဆည်းဖယ်ရှားပြီး၊ ပတ်ဝန်းကျင်အား ရှင်းလင်းပေးရန် လုပ်ငန်း လက်ခံသူများက တာဝန်ယူမည် ဖြစ်သည်။

**စာချုပ်အပိုဒ်-(၂၄) လုပ်ငန်းကာလ**

ဤအကျိုးတူ လုပ်ငန်းဆောင်ရွက်မည့် လုပ်ငန်းကာလမှာ အဆောက်အဦ ဆောက်လုပ်ပြီးစီး၍ လုပ်ငန်းစတင်ဆောင်ရွက်မည့်နေ့မှစ၍ နှစ်(၃၀)တိတိ သတ်မှတ်ပါသည်။ အကျိုးတူ လုပ်ငန်းကာလ ပြီးဆုံး၍ (၁)ကြိမ်လျှင် (၅)နှစ်ဖြင့် (၂)ကြိမ်ကို အကျိုးတူလုပ်ငန်းတွင် ပါဝင်သူ နှစ်ဦးနှစ်ဘက် သဘောတူညီချက်ဖြင့် တိုးမြှင့်ဆောင်ရွက်နိုင်ပါသည်။ အကယ်၍ အကျိုးတူလုပ်ငန်းကာလ (၃၀)နှစ် ကုန်ဆုံး၍ တစ်ဖက်ဖက်မှ ဆက်လက်လုပ်ကိုင်ဆောင်ရွက်လိုခြင်းမရှိပါက လုပ်ငန်းကာလ (၃၀)နှစ် ပြည့်သည့်နေ့တွင် ဤအကျိုးတူ လုပ်ငန်းကာလ ပြီးဆုံးသည်ဟု မှတ်ယူရမည်။စာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် လုပ်ငန်းလက်ခံသူများမှ ဆက်လက်မသုံးစွဲလိုတော့ပါက လုပ်ငန်းအပ်နှံသူသို့ (၁)နှစ် ကြိုတင် အကြောင်း ကြားရမည်။ ထိုသို့ စာချုပ်သက်တမ်းအားလုံး ကုန်ဆုံးပြီးနောက် လက်ရှိစီးပွားရေး လုပ်ငန်းအဖြစ် လည်ပတ်ဆောင်ရွက်နေသော အဆောက်အဦနှင့်တကွ ဥပစာအားလုံးအား ခြွင်းချက် မရှိ မည်သည့် အဖိုးစားနားမှမပါဝင်ဘဲ ဆက်လက်သုံးစွဲနိုင်သော အနေအထားဖြင့် လုပ်ငန်းအပ်နှံသူသို့ ပြန်လည်၍ လွှဲပြောင်းပေးရမည်။ ထိုအချိန်တွင် အဆောက်အဦနှင့် ပူးတွဲ တပ်ဆင်ထားသော အဆောက်အဦ၏ ရှိရင်းပုံစံအား ပျက်ယွင်းစေနိုင်သည့် ပစ္စည်းများအား ပြန်လည် ဖြုတ်ယူသယ်ဆောင်သွားခွင့်မပြုပါ။ဤအချက်ကို လုပ်ငန်းအပ်နှံသူမှ ဒါရိုက်တာ အဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်ဖြင့် အာမခံချက် ပေးရမည်။

